ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ

**အဆင့်မြင့်အိမ်ရာဆောက်လုပ်ခြင်းလုပ်ငန်း**
**ဆောင်ရွက်ရန်အတွက်**

**ရင်းနှီးမြှုပ်နှံလိုသူ၏**
**လုပ်ငန်းခွင့်ပြုချက်တင်ပြလျှောက်ထားခြင်း**

**ရောဝတီအပန်းဖြေအိမ်ရာဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက်**

AYEYARWADDY
Resort & Villa Development Co.,Ltd
404,Excel Treasure Tower,Kaba Aye Pagoda Road,Bahan Township
Yangon, Myanmar
Ph: 00 95 9 43122817

---

သို့

ဥက္ကဋ္ဌ
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မီတီရုံး

စာအမှတ်၊ ၁၁၂ /စီမံ / ARVD

ရက်စွဲ၊၂၀၁၇ခုနှစ်၊နိုဝင်ဘာလ ၂၀ ရက်

အကြောင်းအရာ။ **ခွင့်ပြုချက်ရယူရန် ပေးပို့တင်ပြခြင်း**

၁။ ဧရာဝတီအပန်းဖြေအိမ်ရာဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီသည် ဧရာဝတီတိုင်းဒေသကြီး ပုသိမ်မြို့နယ် ငွေဆောင်မြို့တွင် ဘင်ဂလိုပုံစံ Resort & Villas နှင့် အဆင့်မြင့်အိမ်ရာစီမံကိန်းကို အကောင်အထည်ဖော်ဆောင်ရွက်မည်ဖြစ်ပါသည်။ အဆင့်မြင့်အိမ်ရာစီမံကိန်းအား ငွေဆောင်မြို့ အမှတ်(၄)ရပ်ကွက် ဘူးကွဲကြီးကျေးရွာ ကွင်းအမှတ်(၁၉၈၄-မြင်) ဘူးကွဲကြီးကွင်းရှိ လယ်ယာမြေဥပဒေပုဒ်မ ၃၀-(ခ)အရ ခွင့်ပြုချက်ရရှိထားသည့် ဧရိယာ(၂၇.၀၅)ရှိမြေပေါ်တွင် ဆောက်လုပ်ဆောင်ရွက်ရန် ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မီတီသို့ ခွင့်ပြုချက်ရယူရန်အတွက် တင်ပြလျှောက်ထားသည့် ကုမ္ပဏီဖြစ်ပါသည်။

၂။ ဧရာဝတီအပန်းဖြေအိမ်ရာဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီသည် နိုင်ငံသားအစုရှယ်ယာများဖြင့် ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီဖြစ်ပြီး အဆင့်မြင့်အိမ်ရာမြေကွက်များဖော်ထုတ်လျက် နိုင်ငံတကာအဆင့်မီအိမ်ရာများတည်ဆောက်၍ ဒေသဖွံ့ဖြိုးတိုးတက်စေရန်နှင့် တဆက်တည်း ဒေသဖွံ့ဖြိုးတိုးတက်စေရန်နှင့်အတူ ဒေသခံများအလုပ်အကိုင်များရရှိစေပြီး လူနေမှုအဆင့်အတန်းမြင့်မားလာစေရန် ရည်ရွယ်လျက် ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မီတီသို့ ခွင့်ပြုချက်လျှောက်ထားလွှာ ပေးပို့တင်ပြလျှောက်ထားခြင်းဖြစ်ပါကြောင်း လေးစားစွာတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

U Thet Lin
Managing Director
Ayeyarwaddy Resort & Villa
Development Co., Ltd.

**ရောဝတီအပန်းဖြေအိမ်ရာဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီသည် နိုင်ငံသားပိုင်ရင်းနှီးမြှုပ်နှံမှုဖြင့်**
**အဆင့်မြင့်အိမ်ရာဖော်ဆောင်မည့်လုပ်ငန်းအား**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ရန်တင်ပြခွင့်ပြုချက်လျှောက်ထားခြင်း**

**ကုမ္ပဏီအမည်နှင့်လုပ်ငန်းအမျိုးအစား**

၁။ ရောဝတီအပန်းဖြေအိမ်ရာဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီဖြစ်ပြီး ရောဝတီအပန်းဖြေအိမ်ရာဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီသည် ၂၀.၁.၂၀၁၅ရက်နေ့တွင်စတင်ဖွဲ့စည်းခဲ့ပြီး အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန ကုမ္ပဏီမှတ်ပုံတင်လက်မှတ် အမှတ် ၅၁၅၇၂၀၁၄-၂၀၁၅ ဖြင့်မှတ်ပုံတင်ခွင့်ရရှိထားပြီး ဖြစ်ပါသည်။ ကုမ္ပဏီ၏ ရုံးချုပ်တည်နေရာသည် ရန်ကုန်တိုင်းဒေသကြီး ဗဟန်းမြို့နယ် ကမ္ဘာအေးဘုရားလမ်း ExcelTreasureTower အခန်းအမှတ်(၄၀၄)တွင်ရှိပြီး ဆက်သွယ်ရန်တယ်လီဖုန်းနံပါတ်မှာ ၀၉၄၃၁၂၂၈၁၇ ၀၉၄၂၈၀၀၁၀၉၀ တို့ဖြစ်ပါသည်။ မိမိတို့ကုမ္ပဏီသည် အဆင့်မြင့်အိမ်ရာမြေကွက်များ ဖော်ထုတ်၍ နိုင်ငံတကာကဲ့သို့ အဆင့်မြင့်အိမ်ရာများတည်ဆောက်ပြီး လူနေမှုအဆင့်အတန်းမြင့်မားလာစေရေး ရည်ရွယ်ကာ ဆောင်ရွက်သွားမည့် စီမံကိန်းလုပ်ငန်း အမျိုးအစား ဖြစ်ပါသည်။ (ဒါရိုက်တာများစာရင်း သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများအား ပူးတွဲပါ(၁) ဖြင့် တင်ပြထားပါသည်။)

**အဆောက်အဦးဆောက်လုပ်မည့်တည်နေရာ**

၂။ အဆင့်မြင့်အိမ်ရာမြေကွက်များ ဖော်ထုတ်မည့်နေရာသည် ရောဝတီတိုင်းဒေသကြီး ပုသိမ်ခရိုင် ပုသိမ်မြို့နယ် ငွေဆောင်မြို့ အမှတ်(၄)ရပ်ကွက် ဘူးကွဲကြီးကျေးရွာ ကွင်းအမှတ်(၁၉၈၄-ပြင်) ဘူးကွဲကြီးပြင် ဦးပိုင်အမှတ် N-၆၄နှင့် N-၆၇ တွင်ရှိပြီး လယ်ယာမြေဥပဒေပုဒ်မ ၃၀-ခအရ အခြားနည်းဖြင့် အသုံးပြုခွင့်ရရှိထားပြီး ဖြစ်ပါသည်။

**မြေယာပိုင်ဆိုင်မှု**

၃။ လယ်ယာမြေဥပဒေပုဒ်မ ၃၀-ခအရ အခြားနည်းဖြင့် အသုံးပြုခွင့်ရရှိထားပြီး ရောဝတီအပန်းဖြေအိမ်ရာဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီမှ ပိုင်ဆိုင်ထားသည့်မြေ ဖြစ်ပါသည်။ အကျယ်အဝန်းအားဖြင့် ဧရိယာ (၂၇.၀၅) ဧက ရှိပါသည်။

**သက်ဆိုင်ရာအဖွဲ့အစည်းများ၏ခွင့်ပြုချက်**

၄။ အဆင့်မြင့်အိမ်ရာမြေကွက်များ ဖော်ဆောင်မည့်နေရာဖြစ်သည့် ဦးပိုင်အမှတ် N-၆၄သည် ၂၄.၇.၂၀၁၅ ရက်စွဲပါစာအမှတ် ၅၀၀/၄-၁(၁၂၄)အစိုးရ(ရောဝတီ)/ထောက်၁ဖြင့်လယ(၃၀-ခ)အားလည်းကောင်း N-၆၇သည် ၂၃.၁၂.၂၀၁၅ ရက်စွဲပါစာအမှတ် ၅၀၀/၄-၁(၂၀၁)အစိုးရ(ရောဝတီ)/ထောက်၁ဖြင့် လယ(၃၀-ခ) အားလည်းကောင်း အသီးသီး ခွင့်ပြုချက်ရရှိထားပြီးဖြစ်ပါသည်။

၅။ ငွေဆောင်မြို့အပန်းဖြေအိမ်ရာစီမံကိန်းအတွက် တရားဝင်မြေအသုံးပြုခွင့်ရှိရေးနှင့် မြေဩဂရမ်လျှောက်ထားဆောင်ရွက်နေစဉ်အတွင်း အိမ်ရာကြိုတင်ဆောက်လုပ်ခွင့်အား ၁၆.၇.၂၀၁၅ ရက်စွဲပါစာအမှတ် ၅၀၀/၄-၁( )အစိုးရ(ရောဝတီ)ထောက်၁ဖြင့် ခွင့်ပြုချက်ရရှိထားပါသည်။

၆။ တဆက်တည်းမှာပင် အဆိုပါမြေကွက်တွင်ဆောက်လုပ်သည့် အဆောက်အဦးအတွက် အဆောက်အဦးဆောက်လုပ်ခွင့်ရရှိရေး ဆောင်ရွက်လျက်ရှိရာ လိုအပ်သောစာရွက်စာတမ်း အထောက်အထားနှင့် အတူ ၂၈.၈.၂၀၁၇ ရက်နေ့တွင် ငွေဆောင်မြို့နယ် စည်ပင်သာယာရေးအဖွဲ့သို့ တင်ပြထားပါသည်။ (ခွင့်ပြုချက်များအား ပူးတွဲပါ (၂),(၃),(၄)ဖြင့်တင်ပြထားပါသည်။)

**မတည်ရင်းနှီးမည့်ပမာဏ**

၇။ အဆောက်အဦးဆောက်လုပ်မည့် စီမံကိန်းကာလအား(၂)နှစ်သတ်မှတ်ထားပြီး ရင်းနှီးမြှုပ်နှံမှု ပမာဏမှာသန်း(၅၅၀၀) ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ပါသည်။ စီမံကိန်းအား ၂၀၁၅ခုနှစ် အောက်တိုဘာလ (၁၅)ရက်နေ့တွင် စတင်အကောင်အထည်ဖော်ဆောင်ရွက်လျက်ရှိပြီး ကာလအလိုက်သုံးစွဲမည့် ငွေကြေးပမာဏမှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

(က) ၂၀၁၅၊အောက်တိုဘာလမှ ဒီဇင်ဘာလအထိ မြေကြီးလုပ်ငန်း သန်း(၃၀၀)

(ခ) ၂၀၁၆၊ဇန်နဝါရီလမှ ဒီဇင်ဘာလထိ အဆောက်အဦးအကြမ်းထည်လုပ်ငန်း သန်း(၃၀၀၀)

(ဂ) ၂၀၁၇၊ဇန်နဝါရီလမှ ဒီဇင်ဘာလအထိ အချောထည်နှင့်ရေ/မီးလုပ်ငန်း သန်း(၂၂၀၀)

**ဝန်ထမ်းခန့်ထားမည့်အစီအစဉ်နှင့်လုပ်ခလစာ**

၈။ **အဆောက်အဦးဆောက်လုပ်သည့်ကာလ**။အောက်ပါအတိုင်းစီစဉ်ထားပါသည်-

(က) ကုမ္ပဏီရုံးချုပ်တွင် ရုံးအဖွဲ့(၃)ဦး အနိမ့်ဆုံးလစာ(၃.၅)သိန်း၊အမြင့်ဆုံး(၅)သိန်း

(ခ) စီမံကိန်းမန်နေဂျာ(၁)ဦး၊ဝန်ထမ်း(၆)ဦး အနိမ့်ဆုံးလစာ(၅)သိန်း၊အမြင့်ဆုံး(၂၅)သိန်း

(ဂ) ဆိုဒ်အင်ဂျင်နီယာတာဝန်ခံ(၁)ဦး (၁၅)သိန်း

(ဃ) လုံခြုံရေးတာဝန်ခံ(၁)ဦး၊ဝန်ထမ်း(၁၀)ဦး အနိမ့်ဆုံးလစာ(၁.၄)သိန်း၊အမြင့်ဆုံး(၃)သိန်း

(င) စိုက်ပျိုးရေးတာဝန်ခံ(၁)ဦး၊ဝန်ထမ်း(၁၅)ဦး အနိမ့်ဆုံးလစာ(၁.၀၈)သိန်း၊အမြင့်ဆုံး(၃)သိန်း

(စ) အုပ်ချုပ်မှုတာဝန်ခံ(၁)ဦး၊ဝန်ထမ်း(၂)ဦး အနိမ့်ဆုံးလစာ(၁.၅)သိန်း၊အမြင့်ဆုံး(၄)သိန်း

(ဆ) ဆိုဒ်အင်ဂျင်နီယာ(၉)ဦး၊ဝန်ထမ်း(၂၁၅)ဦး အနိမ့်ဆုံးလစာ(၁.၅)သိန်း၊အမြင့်ဆုံး(၁၀)သိန်း

(ဇ) ယန္တရားတာဝန်ခံ(၁)ဦး၊ယာဉ်မောင်း(၁၃)ဦး အနိမ့်ဆုံးလစာ(၃)သိန်း၊အမြင့်ဆုံး(၅)သိန်း

(ဈ) စုစုပေါင်းဝန်ထမ်းအင်အား(၂၇၉)ဦးဖြင့် ဆောင်ရွက်သွားပါမည်။ များသောအားဖြင့်ဒေသခံများအားဦးစားပေးခန့်အပ်သွားပါမည်။(ပူးတွဲပါ(၅)ဇယားဖြင့်တင်ပြထားပါသည်။)

၉။ **အဆောက်အဦးဆောက်လုပ်ပြီးကာလ**။အောက်ပါအတိုင်းစီစဉ်ထားပါသည်-

(က) ရုံးအဖွဲ့(၅)ဦး အနိမ့်ဆုံးလစာ(၃.၅)သိန်း၊အမြင့်ဆုံး(၅)သိန်း

(ခ) Sale & Marketing(၅)ဦး အနိမ့်ဆုံးလစာ(၃.၅)သိန်း၊အမြင့်ဆုံး(၅)သိန်း

(ဂ) စီမံကိန်းမန်နေဂျာ(၁)ဦး၊ဝန်ထမ်း(၆)ဦး အနိမ့်ဆုံးလစာ(၅)သိန်း၊အမြင့်ဆုံး(၂၅)သိန်း

(ဃ) ဆိုဒ်အင်ဂျင်နီယာတာဝန်ခံ(၁)ဦး (၁၅)သိန်း

(င) လုံခြုံရေးတာဝန်ခံ(၁)ဦး၊ဝန်ထမ်း(၁၄)ဦး အနိမ့်ဆုံးလစာ(၁.၄)သိန်း၊အမြင့်ဆုံး(၃.၅)သိန်း

(စ) စိုက်ပျိုးရေးတာဝန်ခံ(၁)ဦး၊ဝန်ထမ်း(၂၀)ဦး အနိမ့်ဆုံး(၁.၀၈)သိန်း၊အမြင့်ဆုံး(၃.၅)သိန်း

(ဆ) အုပ်ချုပ်မှုတာဝန်ခံ(၁)ဦး၊ဝန်ထမ်း(၅)ဦး အနိမ့်ဆုံးလစာ(၁.၅)သိန်း၊အမြင့်ဆုံး(၅)သိန်း

(ဇ) M & E တာဝန်ခံ(၁)ဦး၊ဝန်ထမ်း(၅)ဦး အနိမ့်ဆုံးလစာ(၂)သိန်း၊အမြင့်ဆုံး(၅)သိန်း

(ဈ) စုစုပေါင်းဝန်ထမ်း(၆၆)ဦး ထားရှိသွားပါမည်။ များသောအားဖြင့် ဒေသခံများအားဦးစားပေးခန့်အပ်သွားပါမည်။(ပူးတွဲပါ(၆)ဇယားဖြင့်တင်ပြထားပါသည်။)

၁၀။ ကုမ္ပဏီ၏ဝန်ထမ်းခန့်ထားမှုနှင့် ဆောက်လုပ်ရေးလုပ်ငန်းအတွက် လိုအပ်သောကျွမ်းကျင်လုပ်သားများခန့်ထားမှု နေ့စားဝန်ထမ်းများခန့်ထားမှု တို့အား အလုပ်သမားဦးစီးဌာန၏ သတ်မှတ်ချမှတ်ထားသည့်မူနှင့်အညီ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ဝန်ထမ်းများခန့်အပ်မှုရှိလာပါက အလုပ်သမားဦးစီးဌာနသို့ဆက်သွယ်အကြောင်းကြားမည်ဖြစ်ကြောင်းနှင့် နေ့စားဝန်ထမ်းများ၏ လုပ်ခလစာများကိုလည်း နိုင်ငံတော်မှသတ်မှတ်ထားသည့် အခြေခံလစာအတိုင်း ထုတ်ပေးသွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

**ငွေကြေးအထောက်အထား**

၁၀။ Novotel Hotel Ayeyarweddy Bank တွင် စာရင်းအမှတ် ၀၁၁၂၂၂၄၀၁၀၀၀၀၀၁၆၈ ဖြင့် Acount ဖွင့်လှစ်ထားရှိပြီး ဒါရိုက်တာများ ရှယ်ယာထည့်ဝင်မှုအခြေအနေအား ပူးတွဲပါ(၇)စာရင်းဖြင့် တင်ပြထားပါသည်။ဝင်ငွေလျာထားချက်အရ ကုမ္ပဏီမှ မတည်ရင်းနှီးအဖြစ် မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာနအောက်ရှိ ကမ္ဘာ့ရတနာဘဏ်မှ ချေးငွေ(၅)ဘီလီယံအား ရယူ၍လည်းကောင်း ထို့အပြင် Customer များထံသို့ရောင်းချရရှိထားသည့်အရစ်ကျငွေများဖြင့် လည်းကောင်းရရှိပြီး မတည်ရင်းနှီးငွေအဖြစ်ထားရှိကာ အိမ်ရာများအကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိပါသည်။

**အခွန်ပေးဆောင်မည့်အစီအစဉ်**

၁၁။ ဧရာဝတီအပန်းဖြေအိမ်ရာဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီသည် အဆင့်အိမ်ရာမြေကွက်များဖော်ထုတ်၍ အဆင့်မြင့်အိမ်ရာများတည်ဆောက်ပြီး ရောင်းချသွားရန်စီစဉ်ထားပါသည်။ အဆောက်အဦးဆောက်လုပ်ပြီးစီးပါက သတ်မှတ်ထားသည့် ရောင်းခွန်/ဝယ်ခွန်များပေးဆောင်ပြီး ရောင်းချသွားပါမည်။ လုပ်ငန်းခွန် ကုန်သွယ်ခွန်များအပြင် အခြားသောအဆောက်အဦးဆောက်လုပ်ခွင့်အတွက် စည်ပင်ခွန် မြေခွန် စသည့် နိုင်ငံတော်သို့ပေးသွင်းရမည့် အခွန်များကိုလည်း သတ်မှတ်သည့် စည်းမျဉ်းစည်းကမ်း ဥပဒေနှင့်အညီ ပေးသွင်းသွားရန်စီစဉ်ထားရှိပြီး လက်ရှိတွင် ကြိုတင်ခွန်အဖြစ် ကျပ်သိန်း(၂၀)အား နိုင်ငံတော်သို့ ပေးသွင်းထားပြီးဖြစ်ပါသည်။တဆက်တည်း နိုင်ငံတော်မှသတ်မှတ်ထားသည့် အခွန်ငွေပေးသွင်းမှုအတွက် မြေခွန် စည်ပင်ခွန် အရောင်းအဝယ်စာချုပ်ဆိုရာတွင် ပေးသွင်းရမည့်အခွန်စသည်တို့အား ဧရာဝတီတိုင်းဒေသကြီးတွင် ပေးသွင်းနိုင်ရန် စီစဉ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

**CSR လုပ်ငန်းအတွက်ဆောင်ရွက်ပေးမှု**

၁၂။ **လက်ရှိဆောင်ရွက်ပေးထားသည့်အခြေအနေ**။အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ဘူးကွဲကြီးကျေးရွာမှ ညောင်မော်ကျေးရွာသွား ကျေးရွာဆက်လမ်း အရှည် (၃၀၇၂)ပေ၊ အကျယ်(၂၃)ပေ ရှိကွန်ကရစ်လမ်း ဖောက်လုပ်ပေးခြင်း။

(ခ) တဆက်တည်းမိုးတွင်းကာလ အိမ်များလမ်းများ ရေမဝပ်စေရေးအတွက်ကွန်ကရစ်လမ်းနှင့် အတူရေမြောင်းကို တပါတည်းဆောင်ရွက်ပေးခြင်း။

(ဂ) ဘူးကွဲကြီးကျေးရွာ၊ စာသင်ကျောင်း ဝန်ထမ်းဆောင်ဆောက်လုပ်ရန်အတွက်မြေနေရာ ဝယ်ယူစီစဉ်ပေးခြင်း

(ဃ) ဘူးကွဲကြီးကျေးရွာ၊ စာသင်ကျောင်းအတွက် စာသင်ခုံများ ဆောင်ရွက်ပေးခြင်း။

(င) ဒေသခံမိသားစုများစားဝတ်နေရေး အဆင်ပြေစေရေးအတွက် အလုပ်အကိုင်စီစဉ်ပေးခြင်း

၁၃။ **ဆက်လက်ဆောင်ရွက်ပေးမည့်အခြေအနေ။**အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ဘူးကွဲကြီးကျေးရွာ ရေပေးဝေရေး ဆောင်ရွက်ပေးခြင်း

(ခ) လျှပ်စစ်မီး ဖြန့်ဝေပေးရေး ဆောင်ရွက်ပေးခြင်း

(ဂ) အဆောက်အဦးများ ဆောက်လုပ်ပြီးစီးပါက ဒေသခံများအားဝန်ထမ်းခန့်အပ်ပေးခြင်း

**သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး**

၁၄။ ကုမ္ပဏီ၏တင်ပြချက်အရ အိမ်ရာစီမံကိန်းဆောက်လုပ်မှု အနေအထားသည်ကမ်းခြေဘက်မှ မီတာ (၈၀)မှ(၁၀၀)ကြား အသုံးပြုမည့် ဧရိယာစတုရန်းမီတာ၂သိန်းမှ၅သိန်းကြားရှိခဲ့လျှင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး၏Guide Lineအရ IE ဖြင့်သာ ဆောက်ရွက်ရမည်ဖြစ်ကြောင်း သိရှိရပါသည်။ ထို့အပြင် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် နှစ်ရှည်အရိပ်ရပင်များ လေကာပင်များ အလှပန်းပင်များဖြင့် ဝေဝေဆာဆာ စိုက်ပျိုးဆောင်ရွက်သွားမည်ဖြစ်ပါသည်။စုစုပေါင်းပျိုးပင်(၄)သိန်းကျော်ရှိပြီး ပျိုးခြံတွင် ထိန်းသိမ်းထားရှိထားပါသည်။ ရေဆိုးများကိုလည်း ပြင်ပပင်လယ်ကမ်းခြေသို့ မထွက်သွားစေရန် Waste water treatment ပြုလုပ်သည့်စနစ်ထားရှိပြီး သစ်ပင်ပန်းပင်များ(landscape works )အတွက် အသုံးပြုနိုင်ရန် စီစဉ်ထားရှိထားပါသည်။(ပြုလုပ်ထားပုံစနစ်အားပူးတွဲပါ(၁၂-က)အတိုင်းတင်ပြထားပါသည်။

**ရင်းနှီးမြှုပ်နှံမှုအကောင်အထည်ဖော်မည့်အစီအစဉ်**

၁၅။ **အဆင့်မြင့်အိမ်ရာဆောက်လုပ်ခြင်း။** အဆင့်မြင့်အိမ်ရာဆောက်လုပ်ခြင်း စီမံကိန်းအား ၂၀၁၇ခုနှစ်၊ အောက်တိုဘာလ(၁၅)ရက်နေ့တွင် စတင်အကောင်အထည်ဖော် ဆောင်ရွက်ခဲ့ပါသည်။ စီမံကိန်းကာလ အား(၂)နှစ်သတ်မှတ်ထားပြီး ပထမဦးစွာ မြေကြီးပြုပြင်ခြင်း လုပ်ငန်းအား စတင်ဆောင်ရွက်ခဲ့ပါသည်။ ထို့နောက်မြေညှိခြင်း အကွက်ဖော်ခြင်းများ လုပ်ငန်းများအား ဆက်လက်ဆောင်ရွက်ခဲ့ပါသည်။ အကွက်များ အား ၅၀ပေx၇၀ပေအကျယ်နှင့် ၈၀ပေx၉၀ပေအကျယ် မြေကွက်များဖော်ခဲ့ပြီး ၅၀ပေx၇၀ပေအကျယ် (ရေကူးကန်အပါ)အား Holiday Villa တစ်ထပ်အဖြစ်လည်းကောင်း ၈၀ပေx၉၀ပေအကျယ် (ရေကူးကန်အပါ)အား Delux Villa နှစ်ထပ်အဖြစ်လည်းကောင်း ဆောက်လုပ်သွားမည်ဖြစ်ပါသည်။ Holiday Villa (၇၂) လုံး Delux Villa(၅၈)လုံး စုစုပေါင်းအလုံး(၁၃၀) ဆောက်လုပ်သွားမည်ဖြစ်ပါသည်။

၁၆။ Holiday Villa အား မြေအကျယ်ပေ၅၀xပေ၇၀ အကွက်တွင်ဆောက်လုပ်သွားမည်ဖြစ်ပြီး ဆောက်လုပ်မည့်ပုံစံနှင့် အဆောက်အဦး(၁)လုံး၏ ကုန်ကျမှုအတွက် Estimate အား ပူးတွဲပါ(၈)ဖြင့်လည်းကောင်း ထို့အတူ Delux Villa အားမြေအကျယ် ပေ၈၀xပေ၉၀ အကွက်တွင် ဆောက်လုပ်သွားမည်ဖြစ်ပြီး အဆောက်အဦး(၁)လုံး၏ ကုန်ကျမှုအတွက် Estimate အား ပူးတွဲပါ(၉)ဖြင့်လည်းကောင်း တင်ပြထားပါသည်။ လုပ်ငန်းစတင်ဆောင်ရွက်မှုမှ ပြီးစီးမှုအခြေအနေထိ လုပ်ငန်းအချိန်ဇယားအတိုင်း ဆောင်ရွက်မှာဖြစ်ပြီး လုပ်ငန်းအချိန်ဇယားအား ပူးတွဲပါ(၁၀)အတိုင်း တင်ပြထားပါသည်။

**အိမ်ရာကွက်များရောင်းချမှုစနစ်**

၁၇။ အိမ်ရာများဆောက်လုပ်ရာတွင် Design ပေါ်မူတည်ပြီး Constrution cost, Land cost ,Infra cost များတွက်ချက်၍ သတ်မှတ်ဆောင်ရွက်ထားပါသည်။ ထိုသို့သတ်မှတ်ထားသည့်အတိုင်း Customer တစ်ဦးအနေဖြင့် ၎င်းတို့ကြိုက်နှစ်သက်သည့် HV သော်လည်းကောင်း DV သော်လည်းကောင်း ရွေးချယ်စေပြီး ရွေးချယ်ပြီးပါက မိမိတို့ကုမ္ပဏီမှ အဆိုပါ Designအတိုင်း ဆောက်လုပ်ခွင့်ပြုထားသည့်ကုမ္ပဏီနှင့် စာချုပ်ချုပ်ဆိုပြီး ဆောက်လုပ်ဆောင်ရွက်ခဲ့ပါသည်။ Construction cost မှာ Customerမှ ပေးသွင်းခဲ့သည့်တန်းဘိုးအတိုင်းသာ ဖြစ်ပါသည်။Land costမှာ ကုမ္ပဏီမှရရှိမှာဖြစ်ပြီး Infraအတွက် ဆောက်လုပ်ကျ

သင့်ငွေတန်ဘိုးမှာ ကုမ္ပဏီမှရင်းနှီးမြှုပ်ထားသည့် ငွေဖြစ်သဖြင့် ၎င်း(၂)ခုခြားနားမှုအပေါ်အကျိုးအမြတ် ခံစားရမည်ဖြစ်ပါသည်။

၁၈။ **လျှပ်စစ်မီးဆောင်ရွက်ထားရှိမှု။** ငွေဆောင်အပန်းဖြေအိမ်ရာစီမံကိန်းအတွက် လျှပ်စစ်မီး 4-MVA အသုံးပြုရန်လိုအပ်ပါသည်။ အဆိုပါလိုအပ်ချက်အရ ဧရာဝတီတိုင်းဒေသကြီးအစိုးရသို့တင်ပြခဲ့ပြီး လက်ရှိတွင် စီမံကိန်းဆောက်လုပ်မှုလုပ်ငန်းအတွက် 500-KVA ခွဲတမ်းချပေးခဲ့ပါသည်။ လျှပ်စစ်ဓါတ်အားဖြန့်ဝေပေးရေးအတွက် 4-MVAမှ 11KV ထိုင်ပြီး ၎င်းမှ 0.4KV လိုင်းဖြင့် နေအိမ်များသို့ ဖြန့်ဝေပေးရန် စီစဉ်ဆောင်ရွက်ထားပါသည်။ အဆိုပါလိုင်းမှာ မြန်မာ့လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်းမှ ငွေဆောင်မြို့သို့ လျှပ်စစ်ဓါတ်အား ရောက်ရှိမှသာ ၎င်းမှတဆင့် မိမိအစီအစဉ်ဖြင့် သွယ်ယူဆောင်ရွက်သွားမည်ဖြစ်ပါသည်။ အကယ်၍ လျှပ်စစ်ဓါတ်အားငွေဆောင်သို့ ရောက်ရှိခြင်းမရှိသေးပါက လိုအပ်သည့် Generatorနှင့် Transformer များဝယ်ယူထားရှိပြီး မီးရရှိရေးအတွက်စီစဉ်ထားရှိထားပါသည်။တဆက်တည်း ကျေးရွာမှလိုအပ်ပါကလည်း ဖြန့်ဝေပေးသွားရန် စီစဉ်သွားမည်ဖြစ်ပါသည်။(Electrical Supply အားပူးတွဲပါ(၁၁)ပုံဖြင့် တင်ပြထားပါသည်။)လျှပ်စစ်ပိုင်းအနေဖြင့် သိရှိရသည်မှာ အချက်(၂)ချက်ရှိကြောင်း ပထမအချက်မှာ IPP စနစ်ဖြစ်ပြီး ပုဂ္ဂလိကမှလုပ်ဆောင်မည်ဖြစ်၍ ၁ယူနစ်လျှင်၂၀၀ထက်မပိုသည့်နှုန်းဖြင့် ဆောင်ရွက်နိုင်ရန်ဆွေးနွေးသွားမည်ဖြစ်ကြောင်း ကုမ္ပဏီမှလိုအပ်ချက်မှာ 4MVAဖြစ်သဖြင့် ၎င်းအစီအစဉ်အား စိတ်ဝင်စားပါက စီစဉ်ပေးသွားမည်ဖြစ်ကြောင်း ဒုတိယအချက်မှာ မြန်မာ့လျှပ်စစ်လုပ်ငန်းမှ ငွေဆောင်မြို့နယ်အတွင်း လျှပ်စစ်မီးလိုအပ်ချက်အား တွက်ချက်ပြီး ပြည်ထောင်စုအစိုးရသို့ သီးခြားတင်ပြတောင်းခံသွားမည် အစီအစဉ်ဖြစ်ကြောင်း သိရှိရပြီး ကုမ္ပဏီမှ မိမိတို့ဆောက်လုပ်ရေးလုပ်ငန်းပြီးစီးမှုအပေါ် အသုံးပြုရန်လိုအပ်သည့်အခြေအနေအရ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

၁၉။ **ရေရရှိရေးဆောင်ရွက်ထားရှိမှု။**အဆင့်မြင့်အိမ်ရာနေရာသို့ ရေရရှိရေးအတွက် ငွေဆောင်ဆည် Pump Station မှ ဓလက်မပိုက်ဖြင့် အဆင့်ဆင့်သွယ်ယူပြီး အိမ်ရာနေရာရှိ ဂါလံ(၁)သိန်းဆန့်Overhead Tank (၂)လုံးသို့ ပေးပို့သွားမည်ဖြစ်ပါသည်။ ၎င်းမှတဆင့် Treated Water Tank သို့ဖြတ်သန်းပြီး လူနေအိမ်များသို့ ဖြန့်ဝေပေးသွားမည်ဖြစ်ပါသည်။ လူနေအိမ်များတွင်လည်း ဂါလံ(၁၀၀၀၀)ဆန့် Ground Tank အသီးသီးရှိမည်ဖြစ်ပြီး အသုံးပြုပြီး Waste Water များကိုလည်း Waste water treatment ပြုလုပ်သည့်စနစ်ထားရှိကာ သစ်ပင်ပန်းပင်များ(Landscape-work)တွင် အသုံးပြုနိုင်ရန် စီစဉ်ထားရှိထားပါသည်။ ရေဂါလံလိုအပ်ချက်နှင့်ပတ်သက်ပြီး လတ်တလော HV,DV အလုံး(၁၃၀)အတွက် တွက်ချက်မှုများအရ ဂါလံ(၃၃၅၀၀)ခန့်သုံးစွဲရမည်ဖြစ်ပါသည်။ Villaများမှထွက်ရှိလာမည့် ရေဆိုးများကိုလည်း Slow Sand Water Treatment plant စနစ်ဖြင့်ရေများသန့်စင်အောင်ပြုလုပ်သွားပြီး ရေသန့်များအသုံးပြုနိုင်ခြင်းဖြင့် ဆည်မှရေအသုံးပြုခြင်းအားလျှော့နည်းသွားမည်ဖြစ်ပါသည်။ (Fresh Water Supply အား ပူးတွဲပါ(၁၂)ပုံဖြင့်လည်းကောင်း Water Requirement ,Sewage Treatment planအား ပူးတွဲပါ(၁၃)ဖြင့်လည်းကောင်း တင်ပြထားပါသည်။)

၂၀။ အဆင့်မြင့်အိမ်ရာစီမံကိန်း အကောင်အထည်ဖော်ဆောင်ရွက်မည့် အဆိုပြုမြေနေရာသည် မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနမှ ရေးဆွဲထားသည့် ငွေဆောင်မြို့မြို့ပြဖွံ့ဖြိုးမှုစီမံကိန်း (Town Plan)၏ ထိန်းသိမ်းစောင့်ရှောက်ရမည့် ဧရိယာအတွင်းတွင် တည်ရှိနေသဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန၏ မြို့ပြဆိုင်ရာသဘောထားမှတ်ချက်ပြုပေးနိုင်ရေးအတွက် တင်ပြတောင်းခံထားကြောင်း တင်ပြအပ်ပါသည်။

၂၁။ သို့ဖြစ်ပါ၍ ဧရာဝတီအပန်းဖြေအိမ်ရာဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီသည် နိုင်ငံသားအစုရှယ်ယာများဖြင့် ဖွဲ့စည်းတည်ထောင်ထားသောကုမ္ပဏီဖြစ်ပြီး အဆင့်မြင့်အိမ်ရာမြေကွက်များဖော်ထုတ်လျက် နိုင်ငံတကာအဆင့်မီအိမ်ရာများတည်ဆောက်ပြီး ဒေသဖွံ့ဖြိုးတိုးတက်စေရန်နှင့်တဆက်တည်း ဒေသဖွံ့ဖြိုးတိုးတက်စေရန်နှင့်အတူဒေသခံများအလုပ်အကိုင်များရရှိစေပြီး လူနေမှုအဆင့်အတန်းမြင့်မားလာစေရန် ရည်ရွယ်လျက် ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မီတီသို့ ပေးပို့တင်ပြပြီး ခွင့်ပြုချက်ချမှတ်ပေးနိုင်ပါရန် လျှောက်ထားခြင်းဖြစ်ပါကြောင်း လေးစားစွာတင်ပြအပ်ပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်
ရင်းနှီးမြှုပ်နှံသူ၏အတည်ပြုလျှောက်ထားလွှာ

ဥက္ကဋ္ဌ
ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မီတီ

စာအမှတ်၊ ၀၁၃ / စီမံ / ARVD
ရက်စွဲ ၊၂၀၁၇ခုနှစ်၊ နိုဝင်ဘာလ ၃၀ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၇ နှင့်အညီ အောက်ဖော်ပြပါ အချက်များအား ဖြည့်စွက်၍ အတည်ပြုလျှောက်ထားလွှာကို တင်ပြလျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏

(က) အမည် **ဦးသက်လင်း**

(ခ) ကုမ္ပဏီမှတ်ပုံတင်အမှတ်သို့မဟုတ် **၅၁၅၇(၂၀၁၄-၁၅)(ရက)**
ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ်
အမှတ်/နိုင်ငံကူးလက်မှတ်အမှတ်

(ဂ) နိုင်ငံသား **မြန်မာနိုင်ငံသား**

(ဃ) နေရပ်လိပ်စာ/မှတ်ပုံတင်ထားသည့်ကုမ္ပဏီလိပ်စာ **အမှတ်(၄၀၄) Excel Treasure Tower ကမ္ဘာအေးဘုရားလမ်း၊ဗဟန်းမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး**

(င) တယ်လီဖုန်း/ဖက်စ်/အီးမေလ်လိပ်စာ **၀၉၄၃၁၂၂၈၁၇ ngwesaungvilla16@gmail.com**

(စ) လုပ်ငန်းအမျိုးအစား(အသေးစိတ်ဖော်ပြပေးရန်) **အဆင့်မြင့်အိမ်ရာစီမံကိန်း**

မှတ်ချက်။ အောက်ပါအချက်များကိုပူးတွဲဖော်ပြရန်-

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားမိတ္တူ **(ပူးတွဲပါ)**

(၂) နိုင်ငံသားစိစစ်ရေးကဒ်မိတ္တူနှင့်နိုင်ငံကူးလက်မှတ်မိတ္တူ**(ပူးတွဲပါ)**

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏-

(က) အမည်

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်
(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

(ဂ) နိုင်ငံသားစိစစ်ရေးကဒ်အမှတ်/ နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့်လိပ်စာ

1/12/2017

စိုးအောင်
အတွင်းရေးမှူး
တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ဧရာဝတီတိုင်းဒေသကြီး

U Thet Lin
Managing Director
Ayeyarwaddy Resort & Villa
Development Co., Ltd.

(စ) တယ်လီဖုန်း/ဖက်စ်

(ဆ) အီးမေးလ်လိပ်စာ

**မှတ်ချက်။** တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်

၃။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်

☑ ရာနှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်ခြင်း(ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

☐ အခြားသဘောတူညီချက်ပုံစံတမျိုးမျိုးဖြင့်ဆောင်ရွက်ခြင်း(စာချုပ်မူကြမ်းတင်ပြရန်)

မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး ၁၀၀ %

အစိုးရဌာန၊အစိုးရအဖွဲ့အစည်း၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး %

နိုင်ငံခြားသာရင်းနှီးမြှုပ်နှံသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး %

၄။ အစုရှယ် ၁၀%နှုန်းနှင့်အထက်ပိုင်ဆိုင်သောအစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု% |
|---|---|---|---|
| ၁ | ဦးရန်ဝင်း | မြန်မာနိုင်ငံသား | ၁၀.၁% |
| ၂ | ဦးသက်လင်း | မြန်မာနိုင်ငံသား | ၂၀.၂% |
| ၃ | ဦးကျော်ကျော်ထွန်း | မြန်မာနိုင်ငံသား | ၁၅.၂% |
| ၄ | ဦးကျော်ကျော်အောင် | မြန်မာနိုင်ငံသား | ၁၀.၁% |
| ၅ | ဦးသိန်းဟန် | မြန်မာနိုင်ငံသား | ၁၅.၁% |
| ၆ | ဦးဇော်နိုင် | မြန်မာနိုင်ငံသား | ၁၀.၁% |
| ၇ | ဦးကိုကိုအောင်ဌေး | မြန်မာနိုင်ငံသား | ၃.၈% |
| ၈ | ဦးခင်မောင်ကျော် | မြန်မာနိုင်ငံသား | ၁၀.၁% |
| ၉ | ဒေါ်အေးအေး | မြန်မာနိုင်ငံသား | ၅.၁% |

၅။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း **သန်း ၅၀၀၀၀**

(ခ) အစုရှယ်ယာအမျိုးအစား **ကုမ္ပဏီ**

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ **သန်း ၂၀၀၀၀**

**မှတ်ချက်။** သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ကုမ္ပဏီဖွဲ့စည်းပုံအခြေခံစည်းမျဉ်းပူးတွဲတင်ပြရန်(ပူးတွဲပါ)

စိုးအောင်
အတွင်းရေးမှူး
တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ဧရာဝတီတိုင်းဒေသကြီး

U Thet Lin
Managing Director
Ayeyarwaddy Resort & Villa
Development Co., Ltd.

၆။ မတည်ရင်းနှီးငွေနှင့်သက်ဆိုင်သည့်အချက်အလက်များ

ကျပ်/US$သန်းပေါင်း

(က) ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်း **ကျပ်သန်း(၅၅၀၀)**

ပမာဏ/ရာခိုင်နှုန်း

(ခ) နိုင်ငံခြားမှယူဆောင်လာသည့်မတည်ငွေရင်း

ပမာဏ/ရာခိုင်နှုန်း

စုစုပေါင်း

၇။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း **ကနဦးနှစ်(၅၀) သက်တမ်းတိုး(၁၀)နှစ် ၂ ကြိမ်**

၈။ ဆောင်ရွက်မည့်စီးပွားရေးအဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ(များ)/တည်နေရာ

(၁) ဧရာဝတီတိုင်းဒေသကြီး၊ပုသိမ်ခရိုင်၊ပုသိမ်မြို့နယ်၊ငွေဆောင်မြို့၊အမှတ်(၄)ရပ်ကွက်၊ ၁၉၈၄ပြင်၊ဘူးကွဲကြီးပြင်၊ဦးပိုင်အမှတ် N/၆၄ရှိ (၂၀.၂၀)ဧက

(၂) ဧရာဝတီတိုင်းဒေသကြီး၊ပုသိမ်ခရိုင်၊ပုသိမ်မြို့နယ်၊ငွေဆောင်မြို့၊အမှတ်(၄)ရပ်ကွက်၊ ၁၉၈၄ပြင်၊ဘူးကွဲကြီးပြင်၊ဦးပိုင်အမှတ် N/၆၇ ရှိ (၆.၈၅)ဧက

(ခ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး/ပမာဏ **ကျပ်သန်း(၅၅၀၀)**

၉။ သက်ဆိုင်ရာအဖွဲ့အစည်းများ၏ ခွင့်ပြုချက်၊လိုင်စင်၊ပါမစ်စသည်တို့ရှိပါကပူးတွဲတင်ပြရန်(ပူးတွဲပါ)

၁၀။ လုပ်ငန်းစတင်ဆောင်ရွက်နေခြင်း ☑ရှိ၊ ☐ မရှိ

ရှိပါကဆောင်ရွက်မှုအခြေအနေကိုဖော်ပြရန် **(ပူးတွဲပါ)**

၁၁။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ အောက်ဖော်ပြပါ လျှောက်ထားလွှာများကို တင်ပြလျှောက်ထားခြင်းရှိ/မရှိ ဖော်ပြရန်။

☑ မြေအသုံးပြုခွင့်လျှောက်ထားလွှာ

☑ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ

1/12/2017

စိုးအောင်
အတွင်းရေးမှူး
တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ဧရာဝတီတိုင်းဒေသကြီး

U Thet Lin
Managing Director
Ayeyarwaddy Resort & Villa
Development Co., Ltd.

**ကတိခံဝန်ချက်**

အထက်ဖော်ပြပါ လျှောက်ထားသူမှပေးအပ်သည့် အချက်အလက်များအားလုံးသည် မှန်ကန်မှုရှိပါကြောင်း အာမခံပါသည်။

ဤအတည်ပြုလျှောက်ထားလွှာတွင် အတည်ပြုမိန့် ထုတ်ပေးရန်အတွက် ကော်မရှင်မှ စိစစ်ရာ၌ လိုအပ်သည့်အချက်အလက်များကို လျှောက်ထားသူကပေးအပ်ရန် ပျက်ကွက်ပါက အတည်ပြုလျှောက်ထားလွှာကို ငြင်းပယ်ခြင်း သို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့် နှောင့်နှေးကြန့်ကြာခြင်းတို့ ဖြစ်ပေါ်နိုင်ကြောင်း ကောင်းစွာသဘောပေါက်နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ချမှတ်မည့် စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လျှောက်ထားသူလက်မှတ်

အမည် **ဦးသက်လင်း**

ရာထူး မန်နေးဂျင်ဒါရိုက်တာ

ဌာန/ကုမ္ပဏီတံဆိပ်

Ayeyarwaddy Resort & Villa Development Co., Ltd.
No.....................
Date..................

1/12/2017

စိုးအောင်
အတွင်းရေးမှူး
တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ဧရာဝတီတိုင်းဒေသကြီး

ပုံစံ (၇ - ခ)

## မြေအသုံးပြုခွင့်လျှောက်ထားလွှာ

စာအမှတ် -------
ရက်စွဲ -------

သို့

ဥက္ကဋ္ဌ

ဧရာဝတီတိုင်းဒေသကြီး/ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊ ၀၁၆ / စီမံ / ARVD

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ နိုဝင်ဘာလ၊ ၃၀ ရက်

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်ရန် မြေငှားရမ်းခွင့် သို့မဟုတ် မြေအသုံးပြုခွင့် လျှောက်ထားခြင်း။**

ကျွန်တော်/ကျွန်မသည် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခွင့် သို့မဟုတ် မြေအသုံးပြုခွင့်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၁၆ နှင့်အညီ အောက်ပါအချက်လက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည် -

၁။ မြေ/အဆောက်အအုံ၏ ပိုင်ရှင်နှင့်စပ်လျဉ်းသောအချက်အလက်များ-

(က) ပိုင်ရှင်အမည်/အဖွဲ့အစည်း - ဦးသက်လင်း

(ခ) ဧရိယာအကျယ်အဝန်း - (၂၇.၀၅)ဧက

(ဂ) တည်နေရာ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ် ငွေဆောင်မြို့ အမှတ် (၄)ရပ်ကွက်၊ဘူးကွဲကြီးကျေးရွာ။

(ဃ) မူလမြေအသုံးပြုခွင့်ရရှိထားသောကာလ (မြေငှားဂရမ်သက်တမ်း) -----------------------

(င) နှစ်ရှည်ငှားရမ်းခများကိုမတည်ရင်းနှီးငွေအဖြစ်ဖော်ပြခဲ့ခြင်း ရှိ-မရှိ -----------------------

(စ) ကနဦးငှားရမ်းသူကသဘောတူ/မတူ -----------------------------------------------

(ဆ) မြေအမျိုးအစား (N-၆၄,၆၇) လယ (၃၀-ခ) ခွင့်ပြုချက်ရရှိပြီး

၂။ **အငှားချထားသူ**

(က) အမည်/ကုမ္ပဏီအမည်/ဌာန/အဖွဲ့အစည်း -----------------------------------------------

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ် -----------------------------------------------

(ဂ) နေရပ်လိပ်စာ -----------------------------------------------

-----------------------------------------------

1/12/2017

စိုးအောင်
အတွင်းရေးမှူး
တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ဧရာဝတီတိုင်းဒေသကြီး

U Thet Lin
Managing Director
Ayeyarwaddy Resort & Villa
Development Co., Ltd.

၃။ အငှားချထားခြင်းခံရသူ

(က) အမည်/ကုမ္ပဏီအမည်/ဌာန/အဖွဲ့အစည်း ------------------------------------------------

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် --------------------------------

(ဂ) နိုင်ငံသား ------------------------------------------------------------------------

(ဃ) နေရပ်လိပ်စာ --------------------------------------------------------------------

၄။ ငှားရမ်းလိုသည့်မြေနှင့်စပ်လျဉ်းသည့်အချက်အလက်များ

(က) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား အဆင့်မြင့်အိမ်ရာစီမံကိန်း

(ခ) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ (များ)၊ ကွင်းအမှတ် (၁၉၈၄-ပြင်)ဘူးကွဲကြီးရှိ၊လယ်ယာမြေပုဒ်မ ၃၀ - (ခ) အရ ဧရိယာ (၂၇.၀၅)ဧက

(ဂ) တည်နေရာ (ရပ်ကွက်၊မြို့နယ်၊ ပြည်နယ်/တိုင်းဒေသကြီး) ဧရာဝတီတိုင်းဒေသကြီး၊ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ အမှတ် (၄)ရပ်ကွက်၊ ဘူးကွဲကြီးကျေးရွာ။

(ဃ) မြေဧရိယာအကျယ်အဝန်း (၂၇.၀၅)ဧက

(င) အဆောက်အအုံအရွယ်အစား/အရေအတွက် -------------------------------------------

(စ) အဆောက်အအုံတန်ဖိုး ---------------------------------------------------------

၅။ မြေပိုင်ဆိုင်မှု/မြေဂရန်အထောက်အထား(စက်မှုဇုန်မှ အပ)၊မြေပုံနှင့် မြေငှားစာချုပ် (မူကြမ်း) တင်ပြရန်။

၆။ မြေငှားရမ်းခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပုဂ္ဂိုလ်ထံမှ တစ်ဆင့်ငှားရမ်းထားခြင်း ရှိ/မရှိ-

☒ နိုင်ငံတော်၏ ဥပဒေများနှင့်အညီအစိုးရဌာန၊ အစိုးရအဖွဲ့အစည်းထံမှ နိုင်ငံတော်ပိုင်မြေ သို့မဟုတ် အဆောက်အအုံအသုံးပြုခွင့်အား ယခင်ကပင် ရရှိထားသောပုဂ္ဂိုလ်၊

☒ အစိုးရဌာန၊ အစိုးရအဖွဲ့အစည်း၏ ခွင့်ပြုချက်နှင့်အညီနိုင်ငံတော်ပိုင်မြေသို့မဟုတ် အဆောက်အအုံအားတစ်ဆင့်ငှားယူရန် သို့မဟုတ် တစ်ဆင့်လိုင်စင် ရယူရန်အခွင့်ရှိသည့် ပုဂ္ဂိုလ်။

၇။ မြေ/အဆောက်အအုံ ငှားရမ်းခနှုန်း (တစ်နှစ်လျှင်တစ်စတုရန်းမီတာအတွက်) ------------------

----------------------------------------------------------------------------

စိုးအောင်
အတွင်းရေးမှူး
တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ဧရာဝတီတိုင်းဒေသကြီး

U Thet Lin
Managing Director
Ayeyarwaddy Resort & Villa
Development Co., Ltd.

၈။ မြေအသုံးချမှုပရီမီယံကြေး (Land Use Premium – LUP) (အစိုးရဌာန/အစိုးရအဖွဲ့ အစည်းပိုင် မြေငှားရမ်းခြင်းဖြစ်ပါက အငှားချထားခြင်းခံရသူထံမှ ငွေသားဖြင့် LUP တောင်းခံပါမည်။)

တစ်ဧကနှုန်း ---------------------------------------------------------------------------------

၉။ မူလမြေငှားရမ်းခွင့်ရှိသူသို့မဟုတ်မြေအသုံးပြုခွင့်ရသူမှ -------------------------------------------- ငှားရမ်းရန်သဘောတူ/မတူ

၁၀။ လျှောက်ထားသည့် မြေသို့မဟုတ် အဆောက်အအုံ ငှားရမ်း/အသုံးပြုခွင့်သက်တမ်း လျှောက်ထားဆဲ

၁၁။ စက်မှုဇုန်၊ ဟိုတယ်ဇုန်၊ ကုန်သွယ်ရေးဇုန် အစရှိသည့် သက်ဆိုင်ရာ လုပ်ငန်းဇုန်ဧရိယာ------------------------------------------------------- အတွင်းရှိမြေ ဟုတ်/မဟုတ် (ဇုန်ကိုဖော်ပြရန်) မရှိပါ

1/12/2017

စိုးအောင်
အတွင်းရေးမှူး
တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ဧရာဝတီတိုင်းဒေသကြီး

လျှောက်ထားသူလက်မှတ်

အမည်---ဦးသက်ပိုင်---

ရာထူး---မန်နေဂျင်းဒါရိုက်တာ---

ဌာန/ကုမ္ပဏီတံဆိပ်-------------------

Ayeyarwaddy Resort & Villa Development Co., Ltd.
No.............
Date............

AYA BANK
Your trusted partner

Printed time: 17/10/2017 12:18:43 PM

# DEPOSIT STATEMENT

**From: 31/03/2016 To: 31/03/2016**

**Account Number:** 0112224010000168 **Currency** MMK

**Name** / AYEYARWADDY RESORT & VILLA DEVELOPMENT CO.LTD/U KHIN MAUNG KYAW/U THET LIN/U THEIN HAN

**NRC** /5157/2014-2015/12/TAMANA(N)009764/12/AHLANA(N)033973/12/-KA-MA-RA-(N)-044487

**Address** #NO-(76-78),INSEIN RD,MAYANGONE TSP.YGN.#NO.5(A), SETSAN(1) STR, MINGALAR TAUNG NYUNT TSP, YANGON.#I-18, PAN HLAING SR, SAN CHAUNG TSP. 095006856#105/7,THANLWIN ST, KAMARYOUT .

| No | Date | Descriptions | cheque | TT | TC | Debit | Credit | Balance |
|---|---|---|---|---|---|---|---|---|
| | | | | | | | BF | 1,598,741,053.45 |
| 1 | 31/03/2016 | CC250428, 011210301 - 179TO0048 - 793BY@Y1 TUNAYE31 .3.16 | CC250428 | TR | CQD | 80,000,000.00 | 0.00 | 1,518,741,053.45 |
| 2 | 31/03/2016 | Special deposit: Transfer interest to principal | | TR | INT | 0.00 | 12,591,703.77 | 1,531,332,757.22 |
| | | | | | | | BALANCE | 1,531,332,757.22 |

| Previous Balance | + | Total Deposit | - | Total Withdrawals | = | Total Balance |
|---|---|---|---|---|---|---|
| 1,598,741,053.45 | + | 12,591,703.77 | - | 80,000,000.00 | = | 1,531,332,757.22 |

No. of Withdrawals =

No. of Deposit =

Unless the Bank is immediately notified of any discrepancy found in the statement of account it will be taken that the account has been found correct

CH = Cash

TR = Transfer

CL = Clearing

T/T = Type of Transaction

T/C = Type of Transaction code

Manager
Ayeyarwady Bank Limited
YGN, Pyay Road Br. (NOVOTEL)

PAT အစည်းအဝေး၌ ဆွေးနွေးချက်များအပေါ် ဆောင်ရွက်သွားမည့် အစီအမံများ

| စဉ် | ဝန်ကြီး/ဌာန | ဆွေးနွေးလမ်းညွှန်ချက် | ဆွေးနွေးချက်အပေါ်ဆောင်ရွက်မည့်အစီအမံများ | မှတ်ချက် |
|---|---|---|---|---|
| ၁ | မြေစာရင်း | တင်ပြထားသည့်စီမံကိန်းမြေနေရာသည်လယ(၃၀-ခ)ကျ | ထူးခြားဆောင်ရွက်ရန်မရှိပါ။ | |
| | | ထားပြီးဖြစ်ကြောင်းဆွေးနွေးပါသည်။ | | |
| ၂ | လျှပ်စစ် | အပိုင်း(၂)ပိုင်းဆွေးနွေးခဲ့ပါသည်။ | တိုင်းဒေသကြီးအစိုးရအဖွဲ့၏ စီစဉ်ဆောင်ရွက်မှုအပေါ်လိုက် | |
| | | အပိုင်း(၁)-IPP စနစ်ဖြစ်ပြီးPrivate မှလုပ်မည့်နည်းလမ်း | နာဆောင်ရွက်ပြီးအသုံးပြုရန်လိုအပ်သည့် အခြေအနေအရ | |
| | | အပိုင်း(၂)-EPCမှဆောင်ရွက်ပေးမည့်နည်းလမ်း | ဆောက်ရွက်သွားမည်ဖြစ်ပါသည်။ | |
| ၃ | ပတ်ဝန်းကျင် | ကုမ္ပဏီ၏တင်ပြချက်အရ IE ဖြင့်သွားမည်ဖြစ်ကြောင်း သုံးစွဲ | ရေ Volume တွက်ချက်မှုအရ တစ်နေ့လျှင် ရေဂါလံ(၃၃၅၀၀) | |
| | | မည့်ရေVolume သတ်မှတ်ပေးရန်၊ဆည်မှရေအားသုံးစွဲသကဲ့ | သုံးစွဲရမည်ဖြစ်ပါသည်။ရေဆိုးများကိုလည်း Slow Sand Water | |
| | | သို့မိမိအစီအစဉ်ဖြင့်လည်းသုံးစွဲနိုင်ရန်စီစဉ်ထားရန်လိုကြောင်း | Treatment Plantစနစ်ရေများသန့်စင်အောင်ပြုလုပ်ခြင်းဖြင့် | |
| | | ဆွေးနွေးပါသည်။ | ဆည်မှရေသုံးစွဲမှု ပမာဏလျှော့နည်းသွားမည်ဖြစ်ပါသည်။ | |
| ၄ | အခွန် | မတည်ရင်းနှီးရေးပမာဏအရ ဝင်ငွေလျာထားချက်တင်ပြပေး | ဝင်ငွေလျာထားချက်အရ ကုမ္ပဏီမှ မတည်ရင်းနှီးအဖြစ် မွေးမြူ | |
| | | ရန် ငွေများသုံးစွဲထားသည့် အနေအထားရှိသဖြင့် ငွေရရှိမှု | ရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနအောက်ရှိကျွန်ုပ်တနာဘဏ်မှချေး | |
| | | အားဖော်ပြပေးရန် အခွန်များအား ရောဝတီတိုင်းဒေသကြီး | ငွေ(၅)ဘီလီယံအားရယူ၍လည်းကောင်း၊ထို့အပြင် Customer | |
| | | တွင်ပေးသွင်းနိုင်ရန်လိုကြောင်း ဆွေးနွေးပါသည်။ | များထံသို့ရောင်းချရရှိထားသည့်အရစ်ကျငွေများဖြင့်လည်းကောင်း | |
| | | | ရရှိပြီးမတည်ရင်းနှီးငွေအဖြစ်ထားရှိထားပါသည်။အခွန်များကို | |
| | | | ရောဝတီတိုင်းဒေသကြီးတွင်ပေးသွင်းသွားမည်ဖြစ်ပါသည်။ | |
| | | | ကြိုတင်ခွန်အဖြစ်သိန်း(၂၀)အား နိုင်ငံတော်သို့ပေးသွင်းထားပြီး | |
| | | | ဖြစ်ပါသည်။ | |

## PAT အစည်းအဝေး ၌ ဆွေးနွေးချက်များအပေါ် ဆောင်ရွက်သွားမည့် အစီအမံများ

| စဉ် | ဝန်ကြီး/ဌာန | ဆွေးနွေးလမ်းညွှန်ချက် | ဆွေးနွေးလမ်းညွှန်ချက်အပေါ်ဆောင်ရွက်မည့်အစီအမံများ | မှတ်ချက် |
|---|---|---|---|---|
| ၅ | အိုးအိမ် | စီမံကိန်းနေရာသည် Town Plan ထိန်းသိမ်းရေးဇုန်တွင်ရှိ | ရုံးချုပ်၏ သဘောထားရယူရန်အတွက် ၈.၁၁.၁၈ ရက်နေ့တွင် | |
| | | နေသဖြင့် ရုံးချုပ်၏ သဘောထားမှတ်ချက်တောင်းခံသွားရန် | ပုသိမ်မြို့၊မြို့ပြနှင့်အိုးအိမ်ဦးစီးဌာနနှင့် အစိုးရအဖွဲ့ရုံးသို့ စီမံကိန်း | |
| | | လိုကြောင်းဆွေးနွေးပါသည်။ | လုပ်ငန်းဆောင်ရွက်နေမှုအခြေအနေအား တင်ပြခဲ့ပါသည်။ | |
| ၆ | အလုပ်သမား | အလုပ်သမားခန့်အပ်မည်ဆိုပါက ဦးစီးဌာသို့ဆက်သွယ်ရန် | ကုမ္ပဏီ၏ဝန်ထမ်းခန့်ထားမှုနှင့်ဆောက်လုပ်ရေးလုပ်ငန်းအတွက် | |
| | | အလုပ်ရှင် အလုပ်သမားသဘောတူညီချက်စာချုပ်ချုပ်ဆိုရန် | လိုအပ်သောကျွမ်းကျင်လုပ်သားများခန့်ထားမှုနေ့စားဝန်ထမ်းများ | |
| | | အနိမ့်ဆုံးလုပ်ခလစာသတ်မှတ်ချက်အတိုင်းပေးရန် တို့ဆွေး | ခန့်ထားမှု တို့အား အလုပ်သမားဦးစီးဌာန၏သတ်မှတ်ချမှတ်ထား | |
| | | နွေးပါသည်။ | သည့်မှုနှင့်အညီဆောင်ရွက်သွားမည်ဖြစ်ပါသည်။ဝန်ထမ်းများခန့် | |
| | | | အပ်မှုရှိလာပါကအလုပ်သမားဦးစီးဌာနသို့ဆက်သွယ်အကြောင်း | |
| | | | ကြားမည်ဖြစ်ကြောင်းနှင့်နေ့စားဝန်ထမ်းများ၏ လုပ်ခလစာများကို | |
| | | | လည်းနိုင်ငံတော်မှသတ်မှတ်ထားသည့်အခြေခံလစာအတိုင်းထုတ် | |
| | | | ပေးသွားမည်ဖြစ်ပါသည်။ | |
| | | | | |
| | | | | |
| | | | | |
| | | | | |
| | | | | |
| | | | | |

## ARIC အစည်းအဝေး၌ ဆွေးနွေးချက်များအပေါ် ဆောင်ရွက်သွားမည့် အစီအမံများ

| စဉ် | ဝန်ကြီး/ဌာန | ဆွေးနွေးလမ်းညွှန်ချက် | ဆွေးနွေးချက်အပေါ်ဆောင်ရွက်မည့်အစီအမံများ | မှတ်ချက် |
|---|---|---|---|---|
| ၁ | မြေစာရင်း | တင်ပြထားသည့်စီမံကိန်းမြေနေရာသည်လယ(၃၀-ခ)ကျ | ထူးခြားဆောင်ရွက်ရန်မရှိပါ။ | |
| | | ထားပြီးဖြစ်ကြောင်းဆွေးနွေးပါသည်။ | | |
| ၂ | စည်ပင် | တင်ပြထားသည့်စီမံကိန်းမြေနေရာတွင်ဆောက်လုပ်နေသည့် | အဆောက်အဦးဆောက်လုပ်ခွင့်အား ၂၈.၈.၂၀၁၇ ရက်နေ့တွင် | |
| | | အဆောက်အဦးများအတွက် အဆောက်အဦးဆောက်လုပ် | ငွေဆောင်မြို့နယ် စည်ပင်ဦးစီးဌာသို့တင်ပြထားပြီးဖြစ်ပါသည်။ | |
| | | ခွင့်တင်ပြသွားရန် ဆွေးနွေးပါသည်။ | | |
| ၃ | အခွန် | အဆောက်အဦးရောင်းချရသည့်အပေါ် Commercial Tax | အဆောက်အဦးများရောင်းချပြီးပါက စာရင်းပြုလုပ်ပြီး ပေးသွင်း | |
| | | ၃% စာရင်းပြုလုပ်ပေးသွားရန်၊အခွန်အားဧရာဝတီတိုင်းဒေ | သွားမည်ဖြစ်ကြောင်း အခွန်ကိုလည်းဧရာဝတီတိုင်းဒေသကြီးတွင် | |
| | | သကြီးတွင်ပေးသွင်းသွားရန် ဆွေးနွေးခဲ့ပါသည်။ | ပေးသွင်းသွားမည်ဖြစ်ပါသည်။လက်ရှိတွင်ကြိုတင်ခွန်အဖြစ်သိန်း | |
| | | ဆွေးနွေးပါသည်။ | (၂၀)ပေးသွင်းထားပြီးဖြစ်ပါသည်။ | |
| ၄ | အိုးအိမ် | စီမံကိန်းနေရာသည် Town Plan ထိန်းသိမ်းရေးဇုန်တွင်ရှိ | ဆိုဒ်ထဲတွင်ရှင်းလင်းပြသနိုင်ရေးအတွက် ကြိုတင်စီစဉ်သွားပါ | |
| | | နေခြင်းနှင့်ပတ်သက်၍ ရုံးချုပ်၏သဘောထားမှတ်ချက်အ | မည်။ | |
| | | တွက် ဒီဇင်ဘာ(၂)ရက်နေ့တွင် ဆိုဒ်ထဲသို့လာရောက်ကြည့် | | |
| | | ရှု့မည်ဖြစ်ကြောင်းဆွေးနွေးပါသည်။ | | |
| | | | | |
| | | | | |
| | | | | |
| | | | | |

## ARIC အစည်းအဝေး ၌ ဆွေးနွေးချက်များအပေါ် ဆောင်ရွက်သွားမည့် အစီအမံများ

| စဉ် | ဝန်ကြီး/ဌာန | ဆွေးနွေးလမ်းညွှန်ချက် | ဆွေးနွေးလမ်းညွှန်ချက်အပေါ်ဆောင်ရွက်မည့်အစီအမံများ | မှတ်ချက် |
|---|---|---|---|---|
| ၅ | ဝန်ကြီးချုပ် | ဒီဇင်ဘာ(၂)ရက်နေ့ စစ်ဆေးရေးအဖွဲ့စစ်ဆေးပြီးမှ MIC | ဝန်ကြီးချုပ်၏ လမ်းညွှန်ဆွေးနွေးချက်အတိုင်း ဆောင်ရွက်သွားပါ | |
| | | နှင့် အိုးအိမ် လုပ်ငန်းရှင်တို့ လိုအပ်ချက်များအား ပူးပေါင်း | မည်။ | |
| | | ဆောင်ရွက်သွားရန် လမ်းညွှန်ဆွေးနွေးပါသည်။ | | |
| ၆ | ပတ်ဝန်းကျင် | IE ဖြင့်သွားမည်ဖြစ်သဖြင့် ပြောစရာမရှိပါကြောင်း သဘော | ဆွေးနွေးချက်နှင့် သဘောထားမှတ်ချက်အပေါ်အကောင်အထည် | |
| | | ထားမှတ်ချက်အားအမြန်ဆုံးပေးပို့သွားမည်ဖြစ်ကြောင်းဆွေး | ဖော် လိုက်နာဆောင်ရွက်သွားပါမည်။ | |
| | | နွေးပါသည်။ | | |
| ၇ | ဟိုတယ်/ခရီး | ဟိုတယ်ဆောက်လုပ်မည်ဆိုပါက ခွင့်ပြုမိန့်တင်သွားရန်လို | လောလောဆယ်တွင် ဟိုတယ်ဆောက်လုပ်သည့်လုပ်ငန်း အစီ | |
| | | အပ်မည်ဖြစ်ပြီး ခွင့်ပြုမိန့်ကျမှသာ အဆောက်အဦးဆောက် | အစဉ် မရှိသေးသဖြင့် ဆောက်လုပ်မည့်လုပ်ငန်းရှိလာပါက ခွင့် | |
| | | လုပ်သွားရန် ဆွေးနွေးပါသည်။ | ပြုချက် တင်ပြတောင်းခံသွားပါမည်။ | |
| | | | | |
| | | | | |
| | | | | |
| | | | | |
| | | | | |
| | | | | |
| | | | | |
| | | | | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
စာအမှတ်-------
ရက်စွဲ-------

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**
ပုသိမ်မြို့

☎ ၉၅-၄၂-၂၉၂၅၆-၂၉၂၅၇
🖷 ၉၅-၄၂-၂၉၂၅၈

စာအမှတ်၊ ဧရက /စမ-၀၃၃/(ရင်း-၃)/၂၀၁၇(၁၃၅ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် အောက်တိုဘာ လ ၉ ရက်

အကြောင်းအရာ။ **စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာဖြင့် မေးမြန်းခြင်းအပေါ် ပြန်လည် အကြောင်းကြားခြင်း**

ရည် ညွှန်း ချက်။ Ayeyarwaddy Resort & Villa Development Co., Ltd. ၏ ၂-၁၀-၂၀၁၇ ရက်စွဲပါတင်ပြစာ

၁။ လူကြီးမင်းတို့ ကုမ္ပဏီမှ စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာဖြင့် ၂၀၁၇ ခုနှစ် အောက်တိုဘာလ ၂ ရက်နေ့၌ တင်ပြခဲ့သည့် ရာခိုင်နှုန်းပြည့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အဆင့်မြင့်အိမ်ရာ စီမံကိန်းလုပ်ငန်း နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း ပြန်လည် ဖြေကြားအပ်ပါသည်-

(က) အဆိုပြု ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်း ဥပဒေ ၅ (ခ) အရ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းပြုလုပ်ရန် လိုအပ်သည့် စီမံကိန်းအမျိုးအစားဖြစ်ခြင်း သို့မဟုတ် ဖြစ်နိုင်ချေရှိပါက ကော်မရှင်သို့ အဆိုပြုချက် တင်ပြပြီး ခွင့်ပြုမိန့် လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။

(ခ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ ၁၅/၂၀၁၇ အရ အဆင့်မြင့်အိမ်ရာစီမံကိန်းလုပ်ငန်းသည် နိုင်ငံတော်ကသာ ဆောင်ရွက်ခွင့်ရှိသည့် လုပ်ငန်း၊ နိုင်ငံခြားသားရင်းနှီးမြှုပ်နှံသူကဆောင်ရွက်ခွင့်မရှိသည့် လုပ်ငန်းစာရင်းတွင် ပါဝင်ခြင်းမရှိပါ။ လူနေအိမ်ခန်းအဆောက်အအုံ၊ စုပေါင်းပိုင် အဆောက်အအုံ တည်ထောင်ရောင်းချခြင်း၊ ငှားရမ်းခြင်းလုပ်ငန်းအား ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်နိုင်ပြီး သက်ဆိုင်ရာ ဝန်ကြီးဌာန၏ အတည်ပြုချက် ရယူ ဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတွင် ပါဝင်ခြင်းမရှိပါ။

(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ ၁၃/၂၀၁၇ အရ အဆင့်မြင့် အိမ်ရာ စီမံကိန်း လုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ခြင်း မရှိပါသဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၅ အရ ဝင်ငွေခွန်ကင်းလွတ်ခွင့် သက်သာခွင့် ရရှိနိုင်မည် မဟုတ်ပါ။ Recreation Zone နှင့် အိမ်ရာ စီမံကိန်း လုပ်ငန်းအနေဖြင့် ၇၇ အရ အခွန်အကောက် ကင်းလွတ်ခွင့် သက်သာခွင့်ကိုသာ လျှောက်ထားနိုင်မည်ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ Ayeyarwaddy Resort & Villa Development Co., Ltd. မှ ရာခိုင်နှုန်းပြည့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အဆင့်မြင့်အိမ်ရာ စီမံကိန်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ သတ်မှတ်လျှောက်ထားလွှာပုံစံ၊ မြေအသုံးပြုခွင့် လျှောက်ထားလွှာ၊

အခွန်ကင်းလွတ်ခွင့် သက်သာခွင့် လျှောက်ထားလွှာပုံစံတို့ဖြင့် တင်ပြနိုင်ကြောင်း အကြောင်း ကြားပါသည်။

9/10/2017

( စိုးအောင် )
အတွင်းရေးမှူး

Ayeyarwaddy Resort & Villa Development Co., Ltd.
မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**

စုပေါင်းရုံး၊ မြက်တို၊ ပုသိမ်မြို့

☎ ၉၅-၄၂-၂၄၂၅၆-၂၄၂၅၇ စာအမှတ်၊ဧရက /အ-၀၁၇(အိမ်ရာ)/ရင်း(၃)/၂၀၁၇(၀၇၇)

🖷 ၉၅-၄၂-၂၄၂၅၈ ရက်စွဲ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာ လ ၉ ရက်

သို့

ညွှန်ကြားရေးမှူး
ဧရာဝတီတိုင်းဒေသကြီးပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ်သဘောထားပြန်ကြားပေးပါရန်ကိစ္စ**

ရည် ညွှန်း ချက်။ Ayeyarwaddy Resort & Villa Development Co., Ltd. ၏ ၂၇-၁၀-၂၀၁၇ ရက်စွဲပါတင်ပြစာ

၁။ Ayeyarwaddy Resort & Villa Development Co., Ltd. မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ အမှတ်(၄)ရပ်ကွက်၊ ကွင်းအမှတ် ၁၉၄၈-ပြင်၊ ဘူးကွဲကြီး-ပြင်ကွင်း၊ ဦးပိုင်အမှတ် N-၆၄၊ N-၆၇ ရှိမြေ ၂၇.၀၅ ဧကတွင် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အိမ်ရာစီမံကိန်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ ရည်ညွှန်းပါစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်နှင့်စပ်လျဉ်း၍ ၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၇ ရက်နေ့တွင် ကျင်းပသော တိုင်းဒေသကြီးအဆိုပြုချက်စိစစ်ရေးအဖွဲ့ (PAT)အစည်းအဝေးတွင် တွေ့ဆုံဆွေးနွေးပြီးဖြစ်သည့်အတွက် ပူးတွဲပါအတည်ပြုလွှာ နှင့်ပတ်သက်၍ မည်သည့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက် ဆောင်ရွက်ရမည်ကို ဆောလျင်စွာ ပြန်ကြားပေးနိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

၃။ Ayeyarwaddy Resort & Villa Development Co., Ltd. နှင့် ဆက်သွယ်ရမည့် ပုဂ္ဂိုလ်မှာ ဦးသက်လင်း တယ်လီဖုန်းနံပါတ် ၀၉-၅၀၀၆၈၅၆ ဖြစ်ပါသည်။

**ပူးတွဲ- အတည်ပြုလျှောက်ထားလွှာ(၁)စုံ**

9/11/2017

ဥက္ကဋ္ဌ (ကိုယ်စား)

(စိုးအောင်၊ အတွင်းရေးမှူး)

မိတ္တူကို

ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ရာသီဥတုပြောင်းလဲမှုဆိုင်ရာကြီးကြပ်မှုကော်မတီ
Ayeyarwaddy Resort & Villa Development Co., Ltd.
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
အဆိုပြုချက်စိစစ်ရေးအဖွဲ့

☎ ၀၅-၄၂-၂၉၂၅၆-၂၉၂၅၇ | စာအမှတ်၊ ဧရက/ အ-၀၀၇(အိမ်ရာ)/ရင်း(၃)/၂၀၁၇(၀၈၂)
🖷 ၀၅-၄၂-၂၉၂၅၈ | ရက်စွဲ ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာ လ ၉ ရက်

အကြောင်းအရာ။ **Ayeyarwaddy Resort & Villa Development Co., Ltd. မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အိမ်ရာစီမံကိန်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

ရည် ညွှန်းချက်။ Ayeyarwaddy Resort&Villa Development Co., Ltd. ၏ ၂၇-၁၀-၂၀၁၇ ရက်စွဲပါတင်ပြစာ

၁။ Ayeyarwaddy Resort & Villa Development Co., Ltd. မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ အမှတ်(၄)ရပ်ကွက်၊ ကွင်းအမှတ် ၁၉၄၈-ပြင်၊ ဘူးကွဲကြီး-ပြင်ကွင်း၊ ဦးပိုင်အမှတ် N-၆၄၊ N-၆၇ ရှိမြေ ၂၇.၀၅ ဧကတွင် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အိမ်ရာစီမံကိန်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ ရည်ညွှန်းပါစာဖြင့် အတည်ပြု လျှောက်ထားလွှာ တင်ပြခြင်းကို ၂၀၁၇ ခုနှစ်၊ နိုဝင်ဘာလ ၇ ရက်နေ့တွင် ကျင်းပသော (၃/၂၀၁၇) ကြိမ်မြောက် တိုင်းဒေသကြီး အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခဲ့ရာ ယင်း အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က) သက်ဆိုင်ရာဌာန အဖွဲ့အစည်းများ၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်။

(ခ) လိုအပ်ချက်များပြည့်စုံကကော်မတီအစည်းအဝေးသို့ဆက်လက်တင်ပြရန်။

၂။ သို့ဖြစ်ပါ၍ အထက်ပါ ဆုံးဖြတ်ချက်များအား ပြင်ဆင်ပြီးပါက ပြန်လည်တင်ပြပေးပါရန် နှင့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအဖြစ် ဆောင်ရွက်ရန် လက်ခံနိုင်သည့် လုပ်ငန်းဖြစ်ကြောင်း အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(စိုးအောင်၊အတွင်းရေးမှူး)

**Managing Director**
**Ayeyarwaddy Resort & Villa Development Co., Ltd.**
မိတ္တူကို
ရုံးလက်ခံ/ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**

စုပေါင်းရုံး၊ မြက်တို၊ ပုသိမ်မြို့

☎ ၀၄၂-၄၂-၂၄၂၅၆-၂၄၂၅၇ စာအမှတ်၊ဧရက /အ-၀၁၇(အိမ်ရာ)/ရင်း(၃)/၂၀၁၇(၀၈၆)

🖷 ၀၄၂-၄၂-၂၄၂၅၈ ရက်စွဲ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာ လ ၉ ရက်

သို့

**ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး**

အကြောင်းအရာ။ **ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ(ARIC) ၅/၂၀၁၇ ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခွင့်ပြုချက်ရယူမည် ဖြစ်ကြောင်း တင်ပြခြင်း**

ရည် ညွှန်း ချက်။ Ayeyarwaddy Resort & Villa Development Co., Ltd. ၏ ၂၇-၁၀-၂၀၁၇ ရက်စွဲပါတင်ပြစာ

၁။ Ayeyarwaddy Resort & Villa Development Co., Ltd. မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ အမှတ်(၄)ရပ်ကွက်၊ ကွင်းအမှတ် ၁၉၄၈-ပြင်၊ ဘူးကွဲကြီး-ပြင်ကွင်း၊ ဦးပိုင်အမှတ် N-၆၄၊ N-၆၇ ရှိမြေ ၂၇.၀၅ ဧကတွင် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အိမ်ရာစီမံကိန်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ ရည်ညွှန်းပါစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်နှင့်စပ်လျဉ်း၍ ၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၇ ရက်နေ့တွင်ကျင်းပသော တိုင်းဒေသကြီး အဆိုပြုချက်စိစစ်ရေးအဖွဲ့ (PAT) အစည်းအဝေးတွင် သက်ဆိုင်ရာ ဌာနအဖွဲ့အစည်းများမှ မူအားဖြင့်သဘောတူကြောင်း သဘောထားမှတ်ချက်များ ပေးပြီးဖြစ် ဖြစ်ပါသည်။

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အမိန့်ကြော်ငြာစာ ၂၅/၂၀၁၇ အပိုဒ် ၂၉ နှင့် ၃၀ (က)အရ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် မြေအသုံးပြုမှု ပြောင်းလဲခြင်းအတွက် သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ထောက်ခံချက်ဖြင့် ဆောင်ရွက်နိုင်ကြောင်း ဖော်ပြထားပါသည်။

၄။ အဆိုပါမြေ ၂၇.၀၅ ဧက သည် အခြားနည်းဖြင့်အသုံးပြုရန်ခွင့်ပြုမိန့် လယ ၃၀(ခ) ရရှိထားသောမြေလည်းဖြစ်သည့်အတွက် ကျင်းပမည့် ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ အစည်းအဝေး (ARIC) အမှတ်စဉ် (၅/၂၀၁၇)သို့ တင်ပြပြီး ခွင့်ပြုချက်ရယူ ဆောင်ရွက်မည် ဖြစ်ပါကြောင်းနှင့် လိုအပ်သော လမ်းညွှန်မှုများပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ဦးသက်လင်း တယ်လီဖုန်းနံပါတ် ၀၉-၅၀၀၆၈၅၆ သို့ ဆက်သွယ်ဆောင်ရွက်နိုင်ပါရန် အတည်ပြုလျှောက်ထားလွှာ တစ်စောင်အား ပူးတွဲပေးပို့လျက် တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)

(စိုးအောင်၊ အတွင်းရေးမှူး)

မိတ္တူကို

Ayeyarwaddy Resort & Villa Development Co., Ltd.

011788

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ......၅၁၅၇...../ ၂၀၁၄-၂၀၁၅

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ...ဧရာဝတီ ပင်လယ်ကမ်းခြေ အပန်းဖြေအိမ်ရာ ဖွံ့ဖြိုးတိုးတက်ရေး ကုမ္ပဏီ လီမိတက်အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၂၀၁၅ နှစ်၊ ...ဇန်နဝါရီ...လ၊ ၂၀ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)

(နီလာမူ၊ ဒုတိယညွှန်ကြားရေးမှူး)

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

---

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR

MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. 5157 of 2014-2015

I hereby certify that AYEYARWADDY RESORT & VILLA DEVELOPMENT COMPANY LIMITED is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Yangon this TWENTIETH day of JANUARY, TWO THOUSAND AND FIFTEEN.

**For Director General**

**( Nilar Mu, Deputy Director )**

Directorate of Investment and Company Administration

# ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ဦးကျော်ကျော်ထွန်း (၁၂/လသန(နိုင်)၀၀၀၆၄၆)

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ အမှတ်(၇၆-၇၈)၊ အင်းစိန်လမ်းမကြီး၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ၀၁-၆၅၆၇၀၈ ၊ ၀၁-၆၅၆၇၀၉

(ဃ) ဒါရိုက်တာများ အမည်စာရင်း– (၁) ဦးထွန်းအေး
၁၄/ပသန(နိုင်)၀၉၇၂၇၄
(၂) ဦးကျော်ကျော်အောင်
၁၂/လမတ(နိုင်)၀၀၀၀၉၆

မှတ်ချက်။ (၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၂၀-၁-၂၀၁၅ )မှ ( ၁၉-၁-၂၀၂၀ )ရက်နေ့အထိ(၅)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီး မြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စု ဝန်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင် လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင် မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေး ဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန သို့ လျှောက်ထား ရမည် ။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(သင်းသင်းမြတ်၊ လက်ထောက်ညွှန်ကြားရေးမှူး)

လာရောက်ထုတ်ယူသည့်ရက်စွဲ၊ 20 JAN 2015

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF PLANNING AND FINANCE
DIRECTORATE OF INVESTMENT AND COMPANY ADMINISTRATION
CERTIFICATE OF REGISTRATION OF DOCUMENTS
No. **5157** of **2014 – 2015**

IN THE MATTER OF **AYEYARWADDY RESORT & VILLA DEVELOPMENT COMPANY LIMITED**

I do hereby certify that pursuant to the Myanmar Companies Act.

**Change of registered office from No(76-78), Insein Main Road, Mayangone Township,Yangon Region to No (404), Excel Treasure Tower, Kabar Aye Pagoda Road, Bahan Township,Yangon Region made on(30-8-2017)**

Has / Have been this day duly filed and registered in this office

Dated Yangon , this **TWELFTH** Day of **SEPTEMBER ,**

Two Thousand and **SEVENTEEN .**

MEMORANDUM OF FEES PAID

Registering / Filing For ................................

| | | | | K. | P. |
|---|---|---|---|---|---|
| 1. | Memorandum of Association | ...... | ...... | | |
| 2. | Article of Association | ...... | ...... | | |
| 3. | Notice of situation of registered Office and changes therein | ...... | ...... | 25000 | . 00 |
| 4. | Return of allotments | ...... | ...... | | |
| 5. | Annual list of members and summary of share Capital | ...... | ...... | | |
| 6. | Balance sheet | ...... | ...... | | |
| 7. | Special or extraordinary resolution | ...... | ...... | | |
| 8. | Particular of mortgages and charges | ...... | ...... | | |
| 9. | Copy of Register of Directors, Managers, or Managing Agents and changes therein | ...... | ...... | | |
| 10. | Return of persons authorized to accept Services of process and changes therein | ...... | ...... | | |
| 11. | Registration Fees For A/U Capital. | ...... | ...... | | |
| | | Total : | | 25000 | . 00 |

FOR DIRECTOR GENERAL
( THANDAR SOE - DEPUTY DIRECTOR )

**AYEYARWADDY**
Resort & Villa Development Co.,Ltd
404,Excel Treasure Tower,Kaba Aye Pagoda Road,Bahan Township
Yangon, Myanmar
Ph: 00 95 9 43122817

---

သို့

အတွင်းရေးမှူး

ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မီတီရုံး

စာအမှတ်၊ ၁၁၄ /စီမံ / ARVD

ရက်စွဲ၊၂၀၁၇ခုနှစ်၊နိုဝင်ဘာလ ရက်

အကြောင်းအရာ။ **ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်း တင်ပြခြင်း**

၁။ ဧရာဝတီပင်လယ်ကမ်းခြေအပန်းဖြေအိမ်ရာဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီ၏ ဥက္ကဋ္ဌဦးထွန်းအေး အမည်ဖြင့် လယ်ယာမြေမှတစ်ပါး လယ်ယာမြေအား အခြားနည်းဖြင့်အသုံးပြုရန် ခွင့်ပြုမိန့်ရယူပြီးဖြစ်သော မြေကွက်(၇)ကွက်နှင့် ခွင့်ပြုမိန့်လျှောက်ထားဆောင်ရွက်ဆဲဖြစ်သော မြေကွက်(၆)ကွက်တို့နှင့် ပတ်သက်၍ ဆွေးနွေးကြသည့် အစည်းအဝေးမှတ်တမ်းအား ဤစာနှင့်အတူပူးတွဲပေးပို့အပ်ပါသည်။

၂။ အဆိုပါအစည်းအဝေးဆုံးဖြတ်ချက်အရ ဥယျာဉ်ခြံမြေကိစ္စများနှင့် စပ်လျဉ်းပြီး ဆက်လက်ဆောင်ရွက်နိုင်ရန် မန်းနေဂျင်းဒါရိုက်တာ ဦးသက်လင်းအား ကုမ္ပဏီကိုယ်စား ဆောင်ရွက်နိုင်ရန် ဤအစည်းအဝေးဆုံးဖြတ်ချက်ဖြင့် တာဝန်ပေးအပ်ထားပါကြောင်း အစီရင်ခံတင်ပြအပ်ပါသည်။

ပူးတွဲပါ-

ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်း(၁)စောင်

လေးစားစွာဖြင့်

**U Thein Han**
**Director**
**Ayeyarwaddy Resort & Villa Development Co., Ltd.**

AYEYARWADDY
Resort & Villa Development Co.,Ltd.
301, Novotel Max Hotel, Pyay Road, Kamayuth Township,
Yangon, Myanmar .
Ph: 00 95 9255899898

# AYEYARWADDY RESORT & VILLA DEVELOPMENT CO., LTD.
## ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်း

ကျင်းပသည့် နေ့ရက် ။ ။ ၃၁ - ၃ - ၂၀၁၆
ကျင်းပသည့် နေရာ ။ ။ ကုမ္ပဏီရုံးခန်းရှိအစည်းအဝေးခန်းမ
ကျင်းပသည့် အချိန် ။ ။ နံနက် (၁၀း၃၀)နာရီ

| | တက်ရောက်သူများ | ရာထူး | လက်မှတ် |
|---|---|---|---|
| ၁။ | ဦးသက်လင်း | မန်နေဂျင်းဒါရိုက်တာ | |
| ၂။ | ဦးထွန်းအေး | ဒါရိုက်တာ | |
| ၃။ | ဦးကျော်ကျော်ထွန်း | ဒါရိုက်တာ | |
| ၄။ | ဦးကျော်ကျော်အောင် | ဒါရိုက်တာ | |
| ၅။ | ဦးခင်မောင်ကျော် | ဒါရိုက်တာ | |

အစည်းအဝေးတွင် မန်နေဂျင်းဒါရိုက်တာ ဦးသက်လင်းက သဘာပတိအဖြစ် ဆောင်ရွက်ပြီး၊ အောက်ပါအတိုင်း အများသဘောတူ ဆွေးနွေးဆုံးဖြတ်ကြပါသည်။

**ဆွေးနွေးချက်**

AYEYARWADDY RESORT & VILLA DEVELOPMENT CO., LTD. အမည်ဖြင့် ဝယ်ယူပြီး၊ AYEYAR WADDY RESORT & VILLA DEVELOPMENT CO., LTD. ၏ ဥက္ကဋ္ဌ ဦးထွန်းအေးအမည်ဖြင့် လယ်ယာမြေမှတပါး လယ်ယာမြေအား အခြားနည်းဖြင့်အသုံးပြုရန် ခွင့်ပြုမိန့်ရယူပြီးဖြစ်သော မြေကွက်(၇)ကွက်နှင့် ခွင့်ပြုမိန့် လျှောက်ထားဆောင်ရွက်ဆဲဖြစ်သော မြေကွက်(၆)ကွက်တို့နှင့်ပတ်သက်၍ ဆွေးနွေးကြပြီး၊ အောက်ပါအတိုင်း အများသဘောတူ ဆုံးဖြတ်ကြပါသည်။

**ဆုံးဖြတ်ချက်များ**

၁။ AYEYARWADDY RESORT & VILLA DEVELOPMENT CO., LTD. သည် အောက်ပါပစ္စည်းစာရင်း (၁)ပါ မြေကွက်(၇)ကွက်ကို ကုမ္ပဏီ၏စိုက်ထုတ်ရင်းနှီးငွေဖြင့်ဝယ်ယူပြီး၊ သက်ဆိုင်ရာ ဧရာဝတီတိုင်းဒေသကြီး၊ လယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့သို့ လယ်ယာမြေမှတပါး လယ်ယာမြေအားအခြားနည်းဖြင့်အသုံးပြုရန် ခွင့်ပြုမိန့် လျှောက်ထားခဲ့ရာပစ္စည်းစာရင်း(၁)ပါမြေကွက်(၇)ကွက်အား AYEYARWADDY RESORT & VILLA DEVELOPMENT

CO., LTD. ကိုယ်စား ဥက္ကဌ ဦးထွန်းအေး အမည်ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးရန်ဖြစ်သော်လည်း သက်ဆိုင်ရာမှ ဦးထွန်းအေး အမည်သာဖော်ပြပြီး၊ AYEYARWADDY RESORT & VILLA DEVELOPMENT CO., LTD. အမည် ရေးသွင်းဖော်ပြထားခြင်း မရှိသော်လည်း အဆိုပါမြေကွက်(၇)ကွက်စလုံးသည် AYEYARWADDY RESORT & VILLA DEVELOPMENT CO., LTD. ပိုင် မြေကွက်များဖြစ်ကြောင်း ဦးထွန်းအေးအပါအဝင် ဒါရိုက်တာအဖွဲ့အားလုံးမှ တညီတညွတ်တည်း ဆုံးဖြတ်ကြပါသည်။

**ပစ္စည်းစာရင်း(၁)**

(က) ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၆/၇-၇-၂၀၁၅)ရက်နေ့အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၅)၊ ဆုံးဖြတ်ချက်အမှတ်(၁၇၅)နှင့် ဧရာဝတီတိုင်းဒေသကြီးလယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့၏ (၂-၇-၂၀၁၅) ရက်နေ့ အစည်းအဝေးအမှတ်စဉ်(၃/၂၀၁၅)၊ ဆုံးဖြတ်ချက် (၈၂)တို့အရ ဦးထွန်းအေး အမည်ပေါက် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ငွေဆောင်မြို့၊ အမှတ်(၄)ရပ်ကွက်၊ ကွင်းအမှတ်-(၁၉၈၄-ပြင်/ဘူးကွဲကြီးပြင်)၊ ဦးပိုင်အမှတ်-(N-၆၅)အရ မြေဧရိယာ-(၃၂. ၂၀)ရှိ အဆင့်မြင့် အိမ်ရာစီမံကိန်းမြေအဖြစ် ခွင့်ပြုသည့်ဥယျာဉ်မြေနှင့် ယင်းမြေကွက် ပေါ်ရှိ အကျိုးခံစားခွင့်အရပ်ရပ် အားလုံးပါဝင်သည်။

(ခ) ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၁-၉-၂၀၁၅) ရက်နေ့ အစည်းအဝေးအမှတ်စဉ် (၁၉/၂၀၁၅)၊ ဆုံးဖြတ်ချက်အမှတ်(၃၆)နှင့် ဧရာဝတီတိုင်းဒေသကြီးလယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့၏ (၁-၉-၂၀၁၅) ရက်နေ့ အစည်းအဝေး အမှတ်စဉ်(၅/၂၀၁၅)၊ ဆုံးဖြတ်ချက် (၇)တို့အရ ဦးထွန်းအေး အမည်ပေါက် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ငွေဆောင်မြို့၊ အမှတ်(၄)ရပ်ကွက်၊ ကွင်းအမှတ်-( ၁၉၈၄-ပြင်/ဘူးကွဲကြီးပြင်)၊ ဦးပိုင်အမှတ်-(N-၆၃)အရ မြေဧရိယာ-(၈. ၉၉)ရှိ အဆင့်မြင့်အိမ်ရာ စီမံကိန်းမြေအဖြစ် ခွင့်ပြုသည့်ဥယျာဉ်မြေနှင့် ယင်းမြေကွက်ပေါ်ရှိ အကျိုးခံစားခွင့်အရပ်ရပ် အားလုံးပါဝင်သည်။

(ဂ) ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၆/၇-၇-၂၀၁၅)ရက်နေ့အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၅)၊ ဆုံးဖြတ်ချက်အမှတ်(၁၇၅)နှင့် ဧရာဝတီတိုင်းဒေသကြီးလယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့၏ (၂-၇-၂၀၁၅)ရက်နေ့ အစည်းအဝေးအမှတ်စဉ်(၃/၂၀၁၅)၊ ဆုံးဖြတ်ချက် (၈၃)တို့အရ ဦးထွန်းအေး အမည်ပေါက် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ငွေဆောင်မြို့၊ အမှတ်(၄)ရပ်ကွက်၊ ကွင်းအမှတ်-(၁၉၈၄-ပြင်/ဘူးကွဲကြီးပြင်)၊ ဦးပိုင်အမှတ်- (N-၆၄)အရ မြေဧရိယာ-(၂၀. ၂၀)ရှိ အဆင့်မြင့် အိမ်ရာစီမံကိန်းမြေအဖြစ် ခွင့်ပြုသည့်ဥယျာဉ်မြေနှင့် ယင်းမြေကွက်ပေါ်ရှိ အကျိုးခံစားခွင့် အရပ်ရပ် အားလုံးပါဝင်သည်။

(ဃ) ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၁. ၉. ၂၀၁၅)ရက်နေ့အစည်းအဝေးအမှတ်စဉ် (၁၉/၂၀၁၅)၊ ဆုံးဖြတ်ချက်အမှတ်(၃၆)နှင့် ဧရာဝတီတိုင်းဒေသကြီးလယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့၏ (၁. ၉. ၂၀၁၅) ရက်နေ့ အစည်းအဝေးအမှတ်စဉ်(၅/၂၀၁၅)၊ ဆုံးဖြတ်ချက် (၈)တို့အရ ဦးထွန်းအေး အမည်ပေါက် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ငွေဆောင်မြို့၊ အမှတ်(၄)ရပ်ကွက်၊ ကွင်းအမှတ် ( ၁၉၈၄-ပြင်/ဘူးကွဲကြီးပြင်)၊ ဦးပိုင်အမှတ်-(N-၆၇)အရ မြေဧရိယာ-(၆. ၈၅)ရှိ အဆင့်မြင့်အိမ်ရာ

